## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု တင်ပြလာသော Shwe Kaba Maung Maung Marine Products Co., Ltd. ၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၉-၂-၂၀၁၉ | - | |
| ၂။ | PAT တင်ပြခြင်း | ၂၇-၂-၂၀၁၉ | | PAT (၁၀/၂၀၁၉) (၂၇-၂-၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "အဆိုပြု လုပ်ငန်းကို Normal စနစ်ဖြင့် လုပ်ကိုင်သော လုပ်ငန်း အဖြစ် စီးပွားရေး ဆိုင်ရာ တွက်ချက်မှုများကို ပြင်ဆင်တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။ |
| ၃။ | PAT ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ ပြင်ဆင်၍ ပြန်လည် တင်ပြခြင်း | ၂၈-၃-၂၀၁၉ | | ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းကို Normal စနစ်ဖြင့် ပြင်ဆင်၍ (၂၈-၃-၂၀၁၉)နေ့တွင် အဆိုပြုလွှာ ပြန်လည် တင်ပြလာခြင်းကို လက်ခံရရှိခဲ့ပါသည်။ |
| ၄။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စိမ်းကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၃၁-၃-၂၀၁၉ | ၁၁-၄-၂၀၁၉ | |
| | (ခ) မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက် ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန | ၃၁-၃-၂၀၁၉ | ၂၃-၄-၂၀၁၉ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၃၁-၃-၂၀၁၉ | ၂၆-၄-၂၀၁၉ | |
| | (ဃ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃၁-၃-၂၀၁၉ | ၂-၅-၂၀၁၉ | |
| ၅။ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၅)စုံ လက်ခံရရှိ | ၁၆-၅-၂၀၁၉ | | |
| ၆။ | စုစုပေါင်း ကြာမြင့်ရက် | (၇၈)ရက် | | |

ကန့်သတ်

| | |
|---|---|
| ကုမ္ပဏီအမည် | - Shwe Kaba Maung Maung Marine Products Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၄)၊ မြေတိုင်းရပ်ကွက် အမှတ်(၆၅)၊ ဆိပ်ကမ်းသာလမ်း နှင့် ဒီပဲရင်း ဝန်ထောက် ဦးမြလမ်းထောင့်၊ မြေကွက်အမှတ်(၁၃၂) ရှိ မြေဧရိယာ(၂.၀၃၉)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၈၈.၃၁ သန်း |
| လုပ်ငန်းသက်တမ်း | - (၃၀)နှစ် |
| အရင်းကြေကာလ | - ၃ နှစ် ၆ လ |
| IRR | - ၂၄.၅၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၅၅ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | - |
| ၄ | ဝင်ငွေခွန် | ၁၈၃.၀၆ | ၁၈၉.၈၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ၄၄၆.၅၅ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၁.၈၀ |
| ၇ | CSR (၂%) | | ၂၃.၇၆ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၉၆ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၈၄.၆၁ | ၆၇၃.၁၂ |
| ၉ | Cost : Benefit | ၁ း ၄ | |

ကန့်သတ်

ကန့်သတ်

# Shwe Kaba Maung Maung Marine Products Co., Ltd.

## နိုင်ငံတကာ အဆင့်မီ အအေးခန်း စက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်း

| | |
|---|---|
| ၁။ လုပ်ငန်း တည်နေရာ | - မြေကွက် အမှတ်(၁၃၂)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၅)၊ ဆိပ်ကမ်းသာလမ်း နှင့် ဒီပဲရင်းဝန်ထောက် ဦးမြလမ်းထောင့်၊ ရွှေပြည်သာ စက်မှုဇုန်(၄)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၂။ ပြည်ပမှ တင်သွင်းလိုသည့် စက်ပစ္စည်းများ စာရင်း | - စက်ပစ္စည်းများUS$(၀.၀၂၅၂၄)သန်းဖိုးအား ပြည်ပမှ တင်သွင်းပြီးကြောင်း တင်ပြထားသဖြင့် ယင်းစက်ပစ္စည်းများအတွက်အခွန်အကောက်ကင်းလွတ်ခွင့်ပေးရန် မလိုပါ။ |
| ၃။ တည်ဆောက်ရေးကာလ | - စက်ရုံတည်ဆောက်ပြီးဖြစ်ပါသည်။ |
| ၄။ ရောင်းချပုံနည်းစနစ် | - ပြည်ပ ၁၀၀% |
| ၅။ ပြည်တွင်းမှ ဝယ်ယူမည့် ကုန်ကြမ်း | - ကုန်ကြမ်းအား ပြည်တွင်းမှသာ ဝယ်ယူပါမည်။<br>(က) Frozen Fish<br>(၁) Katla<br>(၂) Mrigal<br>(၃) Rohu<br>(၄) Carfu<br>(၅) Hilsa<br>(ခ) Frozen Prawn<br>- Sea Water Prawn |
| ၆။ ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်၏၂ % ကျပ်(၂.၂၈) သန်းခန့်အား အောက်ပါအတိုင်း ခွဲဝေသုံးစွဲမည် ဖြစ်ပါသည်-<br>ဘိုးဘွားရိပ်သာလုပ်ငန်း ၂၀ %<br>မိဘမဲ့ကလေးဂေဟာ ၂၅ %<br>သာရေးနာရေး ၁၅%<br>ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်း ၂၀%<br>ပညာရေးအထောက်အကူပြုလုပ်ငန်း ၂၀% |

ကန့်သတ်

၇။ မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် - အအေးခန်း လုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် အတွက် ကြိုတင် ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။

၈။ လစာပေးချေမှု အစီအစဉ် - ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် (၉၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း (၁)ဦး ၏ လစာမှာ ကျပ်(၃၀၀,၀၀၀) ဖြစ်ပါသည်။

၉။ နိုင်ငံတော်မှ ရရှိမည့် အခွန်အခ - ဝင်ငွေခွန် ကျပ် (၃၇.၉၆)သန်း

(ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်၍ ကုန်သွယ် လုပ်ငန်းခွန် တွက်ချက်ရန် မလိုပါ)

၁၀။ အခြားတင်ပြချက် - Normal စနစ်ဖြင့် ဆောင်ရွက်သော ငါး၊ ပုစွန် အအေးခန်းလုပ်ငန်း (၄၂)ခု နှင့် Contract Processing စနစ်ဖြင့် ဆောင်ရွက်သော ငါး၊ ပုစွန် အအေးခန်း လုပ်ငန်း (၅)ခုအား မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပါသည်။

**ကန့်သတ်**

## Shwe Kaba Maung Maung Marine Products Co., Ltd. မှ နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Shwe Kaba Maung Maung Marine Products Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇာနည်မောင်မောင် (အဘ-ဦးမောင်မောင်) မန်နေဂျင်းဒါရိုက်တာ |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၄)၊မြေတိုင်းရပ်ကွက်အမှတ်(၆၅)၊ ဆိပ်ကမ်းသာလမ်း နှင့် ဒီပဲရင်း ဝန်ထောက် ဦးမြလမ်းထောင့်၊ မြေကွက်အမှတ်(၁၃၂) ရှိ မြေ ဧရိယာ(၂.၀၃၉)ဧက |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | - **ကျပ် ၅၈၈.၃၁ သန်း** (US$ ၀.၀၂၅၂၄သန်း အပါအဝင်)<br>ကျပ် ၁၀၀.၀၀ သန်း<br>ကျပ် ၂၈၇.၂၇ သန်း (US$ ၀.၀၂၅၂၄ သန်း အပါအဝင်)<br>ကျပ် ၁၈၉.၅၀ သန်း<br>ကျပ် ၁၁.၅၄ သန်း |
| ၇။ | (၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်း | |

| အမျိုးအစား | ထုတ်လုပ်မှု (မက်ထရစ်တန်) | ရောင်းဈေးနှုန်း (US$/မက်ထရစ်တန်) |
|---|---|---|
| Frozen Fish | | |
| Katla | ၉၇၅ | ၂၆၆၆ |
| Mrigal | ၁၄၆၃ | ၃၈၀၇ |
| Rohu | ၂၉၂၅ | ၂၆၆၅ |
| Carfu | ၁၄၆၃ | ၂၁၅၇ |
| Hilsa | ၁၉၅၀ | ၅၈၃၅ |
| Frozen Prawn | | |
| Sea Water Prawn | ၂၄၃၈ | ၁၃၃၂၂ |

**ကန့်သတ်**

| | | |
|---|---|---|
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၃၀)နှစ် |
| ၉။ | တည်ဆောက်ရေးကာလ | - စက်ရုံတည်ဆောက်ပြီးဖြစ်ပါသည်။ |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်ဝင်ငွေခွန် ၂၅% | - ကျပ် ၃၇.၉၆ သန်း |
| ၁၁။ | အရင်းကြေကာလ | (၃)နှစ် (၆)လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၂၄.၅၀% |
| ၁၃။ | ရောင်းချပုံနည်းစနစ် | - ပြည်ပ ၁၀၀% |
| ၁၄။ | လုပ်သားအင်အား | - ၁၉၆ ဦး (ပြည်တွင်း) |
| ၁၅။ | အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာ | - ကျပ် ၉၀,၀၀၀ |
| ၁၆။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ US$ (၀.၀၂၅၂၄)သန်းဖိုး ဝယ်ယူပြီးကြောင်း အထောက်အထား နှင့် ပြည်တွင်း မှ စက်ပစ္စည်းများ ကျပ် (၂၆၂.၇၁)သန်းဖိုး ဝယ်ယူပြီးကြောင်း တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ-၁၄၀၄/၂၀၁၄(၅၃၅.၈)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် မေ လ ၂၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Shwe Kaba Maung Maung Marine Products Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်(၄)တွင် နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြခြင်း ကိစ္စ**

၁။ Shwe Kaba Maung Maung Marine Products Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၄)၊ မြေတိုင်းရပ်ကွက် အမှတ်(၆၅)၊ ဆိပ်ကမ်းသာလမ်း နှင့် ဒီပဲရင်း ဝန်ထောက် ဦးမြလမ်းထောင့်၊ မြေကွက်အမှတ်(၁၃၂) ရှိ မြေဧရိယာ(၂.၀၃၉)ဧကအား ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇာနည်မောင်မောင် (အဘ-ဦးမောင်မောင်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အဆိုပါအဆိုပြုလွှာကို အဆိုပြုချက် စိစစ်ရေးအဖွဲ့ ၏ ၁၀/၂၀၁၄ (၂၇-၂-၂၀၁၄) အစည်းအဝေး သို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် မြေ ငှားရမ်းခြင်း သက်တမ်း ကာလမှာ ကနဦး (၃၀)နှစ် နှင့် တစ်ကြိမ်လျှင် (၅)နှစ် စီဖြင့် (၃)ကြိမ် သက်တမ်းတိုး၍ စုစုပေါင်း (၄၅)နှစ်ထိ ဖြစ်ပြီး တစ်နှစ်လျှင် မြေ ငှားရမ်းခ ကျပ် (၁၂.၀၀)သန်း ဖြင့် ပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေငှားရမ်းခကို (၅)နှစ် တစ်ကြိမ် သုံးသပ်ရန် နှင့် နှစ်စဉ် ငှားရမ်းခနှုန်း၏ ၁၅% ထက် မပိုစေရန် ညှိနှိုင်းထားကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၀.၀၂၅၂၄)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၈၈.၃၀) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$(၀.၀၂၅၂၄)သန်း နှင့် ကျပ် (၂၆၂.၇၀)သန်းဖိုးကို ဝယ်ယူပြီးဖြစ်ကြောင်း တင်ပြထားပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ငွေသား ကျပ် ၁၀၀.၀၀ သန်း

(ခ) စက်ပစ္စည်းကိရိယာ ကျပ် ၂၈၇.၂၇ သန်း (US$ ၀.၀၂၅၂၄ သန်း အပါအဝင်)

ကန့်သတ်

(ဂ) အဆောက်အဦ ကျပ် ၁၈၉.၅၀ သန်း

(ဃ) ပရိဘောဂ နှင့် လုပ်ငန်းသုံး ပစ္စည်း ကျပ် ၁၀.၅၄ သန်း

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၅၈၈.၃၁ သန်း (US$ ၀.၀၂၅၂၄ သန်း အပါအဝင်)**

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း မှ လုပ်သား (၁၉၆) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် (၉၀,၀၀၀) ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ Normal စနစ်ဖြင့် အေးခဲပြီး ငါး/ပုစွန်များ ကုန်ချောများကို ပြည်ပ သို့ (၁၀၀)ရာခိုင်နှုန်း တင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်) တွင် ထုတ်လုပ်မှု၊ ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| **အမျိုးအစား** | **ထုတ်လုပ်မှု (မက်ထရစ်တန်)** | **ရောင်းဈေးနှုန်း (US$/မက်ထရစ်တန်)** |
|---|---|---|
| **Frozen Fish** | | |
| Katla | ၉၇၅ | ၂၆၆၆ |
| Mrigal | ၁၄၆၃ | ၃၈၀၇ |
| Rohu | ၂၉၂၅ | ၂၆၆၅ |
| Carfu | ၁၄၆၃ | ၂၁၅၇ |
| Hilsa | ၁၉၅၀ | ၅၈၃၅ |
| **Frozen Prawn** | | |
| Sea Water Prawn | ၂၄၃၈ | ၁၃၃၂၂ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ= ၉၇၃ ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$ | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၆၂.၉၈ | ၆၀၂၇၆.၆၂ | - | ၆၀၂၇၆.၆၂ |
| (ခ) | အသုံး စရိတ် | - | - | ၆၀၁၆၂.၇၄ | ၆၀၁၆၂.၇၄ |
| (ဂ) | အသားတင် အမြတ် | ၆၂.၉၈ | ၆၀၂၇၆.၆၂ | (၆၀၁၆၂.၇၄) | ၁၁၃.၈၈ |

၇။ နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၃၇.၉၆) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၃)နှစ် နှင့် (၆)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၄.၅၀) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား (၈၀)ခန့် အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် တန်(၃၀၀)ဆန့် အအေးခန်း(၁)ခန်း နှင့် တန်(၁၅၀)ဆန့် အအေးခန်း(၂)ခန်းပါရှိသည့် အအေးခန်းစက်ရုံ(၁)ရုံကို တစ်နှစ်လျှင် သိန်း(၁၂၀)နှုန်းဖြင့် ကနဦး နှစ်(၃၀)ငှားရမ်းပြီး ငှားရမ်းခပြည့်ပြီးပါက ဆက်လက် လုပ်ကိုင်သွားမည့်အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်နှင့်ဂေဟစနစ်အား ထိခိုက်မှု မရှိအောင် ဆောင်ရွက်ထားပါကြောင်း၊

(၅) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၄/၂၀၁၄(၁၀-၄-၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၂၀)အရ Shwe Kaba Maung Maung Marine Products Co., Ltd ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန(နောက်ဆက်တွဲ- ခ)**

(၁) နှစ်စဉ်ကုန်ကြမ်း လိုအပ်ချက် နှင့် ကုန်ချောထွက်ရှိမှု အချိုးအစား ညီညွတ်မှုရှိကြောင်း၊

(၂) ကုန်ကြမ်း နှင့် ကုန်ချော ဈေးနှုန်းများမှာ ဆီလျော်မှုရှိကြောင်း၊

(၃) ကုန်ချော ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း၊

(၄) အဆိုပြုတင်ပြသည့် တည်ဆောက်မည့် စက်ရုံတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်သောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှု၊ ဆောင်ရွက်ထားရှိမည့် အစီအမံများကို စိစစ်တွေ့ရှိရပါကြောင်း၊

(၅) နိုင်ငံတော်အတွက် နိုင်ငံခြား ဝင်ငွေများ ရရှိနိုင်ခြင်း၊ အခွန်ဘဏ္ဍာငွေတိုးပွားနိုင်ခြင်း၊ မြန်မာနိုင်ငံသားများအနေဖြင့် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိနိုင်ခြင်း၊ ထုတ်လုပ်မှု နည်းပညာများ ရရှိခြင်းတို့ကြောင့် အဆိုပြုလုပ်ငန်းဆောင်ရွက်မှုသည် သင့်လျော်မှုရှိပါကြောင်း၊

(၆) Shwe Kaba Maung Maung Marine Products Co., Ltd. ၏ နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ တင်ပို့သည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့် အဆိုပြုချက်အပေါ် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်း အစီအမံများအတိုင်း လိုက်နာ ဆောင်ရွက်မည်ဆိုပါက အဆိုပြုချက်အား မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိပါကြောင်း၊

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) အဆိုပြုလွှာပါလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက် အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စက်ပစ္စည်း ကိရိယာများ နှင့် နည်းပညာများကို အသုံးပြုရန်၊

(၂) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေးနှင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) လုပ်ငန်း ဆောင်ရွက်ရန်၊

(၃) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင် ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန် အတွက် အထူးသဖြင့် ရေဆိုးသန့်စင် စက်ရုံ (Waste Water Treatment Plant) ဆောင်ရွက်မည့် အစီအမံများ ပါဝင် သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental

Management Plan- EMP) ရေးဆွဲတင်ပြရန် နှင့် အစီအစဉ် အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

**[ကုမ္ပဏီ မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ သဘောထား မှတ်ချက်အရ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) နှင့်ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ကို ရေးဆွဲရန် အတွက် Lucky Bird Group of Co., သို့ လုပ်ငန်းအပ်နှံထားပါကြောင်း တင်ပြထားပါသည်။]**

၉။ လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အားမရရှိချိန်တွင် ကိုယ်ပိုင် Generator ဖြင့်လည်း သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် KBZ Bank Ltd. ရှိ (၁၂-၁၁-၂၀၁၃)နေ့ ငွေလက်ကျန် ကျပ်(၁၀၀.၀၁)သန်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် အတွက် စက် ပစ္စည်းများကို ဝယ်ယူတပ်ဆင်ပြီးကြောင်း အထောက်အထား၊ လုပ်ငန်းမှ ထွက်ရှိလာသော ကုန်ချော များကို ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ စက်ရုံတွင် အန္တရာယ် ကင်းရှင်းစေသော ခေတ်မီ စက်အသစ်များကိုသာ သုံးစွဲ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် Waste Water Treatment Plant တပ်ဆင် အသုံးပြုမည် ဖြစ်ပါကြောင်း ဝန်ခံ ကတိပြုထားပါသည်။ လုပ်ငန်းခွင် သာယာရေး နှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

- အဆိုပြုလုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ US$ (၀.၀၂၅၂၄) သန်းဖိုး ဝယ်ယူပြီးကြောင်း အထောက်အထား နှင့် ပြည်တွင်းမှ စက် ပစ္စည်းများ ကျပ်(၂၆၂.၇၁)သန်းဖိုး ဝယ်ယူပြီးကြောင်း အထောက်အထားများ တင်ပြ ထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ ဇ၊ ည၊ ဋ ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Shwe Kaba Maung Maung Marine Products Co., Ltd. မှ နိုင်ငံတကာ အဆင့်မီ အအေးခန်းစက်ရုံ တည်ဆောက်၍ အေးခဲပြီး ငါး/ပုစွန်များ ပြည်ပသို့ တင်ပို့သည့် လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ(က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဧပြီ လ ၂၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၁. ၃. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၄၀၄/၂၀၁၄ (၃၅၅၁-ည)

၁။ Shwe Kaba Maung Maung Marine Products Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်(၄)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၅)၊ ဆိပ်ကမ်းသာလမ်းနှင့် ဒီပဲရင်း ဝန်ထောက်ဦးမြ လမ်းထောင့်၊ မြေကွက်အမှတ် (၁၃၂)ရှိ မြေဧရိယာ(၂. ၀၃၉)ဧကအားငှားရမ်းပြီး နိုင်ငံတကာအဆင့်မီ အအေးခန်းစက်ရုံတည်ဆောက်၍ အေးခဲပြီးငါး/ပုစွန်များတင်ပို့သည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် ညှိနှိုင်းအကြောင်း ကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထား မှတ်ချက်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၈၀)ခန့်အား အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် တန်(၃၀၀)ဆန့် အအေးခန်း (၁)ခန်းနှင့် တန်(၁၅၀)ဆန့် အအေးခန်း(၂)ခန်းပါရှိသည့် အအေးခန်းစက်ရုံ (၁)ရုံကို တစ်နှစ်လျှင် သိန်း(၁၂၀)နှုန်းဖြင့် ကနဦးနှစ် (၃၀)ငှားရမ်းပြီး ငှားရမ်းခပြည့်ပြီးပါက ဆက်လက်လုပ်ကိုင်သွားမည့်အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်နှင့်ဂေဟစနစ်အား ထိခိုက်မှုမရှိအောင် ဆောင်ရွက်ထားပါသည်။

D / 2014 / Lesson /14 , 6

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၀. ၄. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၀)အရ Shwe Kaba Maung Maung Marine Products Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Shwe Kaba Maung Maung Marine Products Co., Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2014/Lesson/14, 7